



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၅၄၁...../၂၀၀၂။ ၂၀၀၂ ခုနှစ်၊ မေ လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဒေါ်ဂျန်စီမြင့် (ခ) ဒေါ်ခင်မြင့်

(ခ) အဘအမည် ဦးဂျန်ထွမ်းရှောက်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/လဂန(နိုင်)၀၉၃၄၀၉

(ဃ) နေရပ်လိပ်စာ အမှတ်(၅၀၁) အေ၊ တီစီစီရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ရေရှည်ကုန်ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၂၂၇)၊ ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန်အပိုင်း(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၆.၀၇)သန်း (ကျပ်သုံးဆယ့်ခြောက်သန်းနှင့် ခုနှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၇/၂၀၀၂ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၁ ရက်
(၂၀၀၂ ခုနှစ်၊ မေလ ၂၅ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) တည်ထောင်၍ ဦးလှဝင်း၊ ဦးသိန်းလွင်၊ ဦးထွန်းထွန်း၊ ဦးဝင်းဇော်နှင့် ဦးဝဏ္ဏ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၂၂၈)၊ ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန် အပိုင်း (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၁.၄၈၄) ဧက (၆၀၀၅.၅၄ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်း၍ စက်ရုံတည်ထောင်ပြီး CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၄-၁၂-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၃/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၄-၁-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂/၂၀၀၂)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ ချမှတ်ထားသော မူများနှင့်အညီ ပြင်ဆင်ပြီး (၁၆-၅-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၈/၂၀၀၂) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၄၁/၂၀၀၂ ကို ထုတ်ပေး လိုက်သည်။

၂။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု နိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ် ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၅။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက် များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ်ထား၍ဆောင်ရွက်အကောင်အထည် ဖော်ရမည်။

၆။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် လုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြား ငွေဖြင့်ရရှိသော အကြွေးငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်/ မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေး ဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် ပြန်လည် ထုတ်ယူသည့် FEC များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင်သာ လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများပေးရန်ဖြစ်သည်။

၇။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၈။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှု ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦအငှါးချထားသူ ဦးလှဝင်း၊ ဦးသိန်းလွင်၊ ဦးထွန်းထွန်း၊ ဦးဝင်းဇော်၊ ဦးဝဏ္ဏ တို့နှင့် အငှါးချထားခြင်းခံရသူ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) တို့အကြား ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထား ရမည်။

၁၂။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၃။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံယေား

များဖြင့် (၆)လတစ်ကြိမ် (ပြေ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၆။ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသောတည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၇၇၅/၂၀၀၂ (၆၃၀–၈ )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မေလ ၂၇ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ ရေရှည် ကုန်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Long Run Manufacturing Co., Ltd.)။